## ကန့်သတ်

**အကြောင်းအရာ။** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - IMCS (Institute of Management & Computer Studies) Co., Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | - ဒေါ်နုနုသန့် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်-၅၀၇/၇၊ ပြည်ရိပ်သာလမ်း၊ ပြည်လမ်း၊ (၈) ရပ်ကွက် ၊ ကမာရွတ် မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး<br>- မြေကွက်အမှတ်- ၁၂၀စီ/၃၉၊ ၁၂၀စီ/၄၀၊ မြေတိုင်းရပ်ကွက် အမှတ်-၃၆အီး၊ အောင်မင်းခေါင်လမ်း၊ (၁၀) ရပ်ကွက်၊ ဝင်ဒါမီယာ၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေ/ အဆောက်အဦပိုင်ရှင် | - ဒေါ်ဝေဝေမြင့်၊ ဦးကောင်းမြတ်ပိုင်၊ ဒေါ်နုနုသန့် |
| | မြေ/အဆောက်အဦ အကျယ်အဝန်း | - ၀.၃၀၆ ဧက၊ ၀.၀၅၈ ဧက |
| | အဆောက်အအုံအရေအတွက် | - |
| | မြေ/အဆောက်အအုံ ငှားရမ်းခ | - |
| | မြေ/အဆောက်အအုံငှားရမ်း/ အသုံးပြုခွင့်သက်တမ်း | - |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့် သက်တမ်း | - |
| ၅။ | တည်ဆောက်မှုကာလ/ ပြင်ဆင်မှုကာလ | - |

ကန့်သတ်

Salient

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း | **ကျပ် ၁,၅၀၀.၀၀၀ သန်း** |
| | **ထည့်ဝင်မည့်အမျိုးအစား** | **ကျပ် (သန်း)** |
| | ငွေသား | ၉၀၀.၀၀၀ |
| | စက်ပစ္စည်း | ၃၅၀.၀၀၀ |
| | အဆောက်အအုံ | ၂၀၀.၀၀၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၅၀.၀၀၀ |
| | | **၁,၅၀၀.၀၀၀ (ကျပ်သန်း ၉၀၀ ထည့်ဝင်ပြီး)** |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု(ပထမနှစ်) | |

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ကာလ (လ) | ဝန်ဆောင် ခနှုန်း |
|---|---|---|---|---|
| (က) | Pre-HND | ၁၇၀ | ၄ | ကျပ် ၁,၅၀၀,၀၀၀ |
| (ခ) | Higher National Certificate | ၁၂၀ | ၁၂ | ကျပ် ၃,၈၀၀,၀၀၀ |
| (ဂ) | Higher National Diploma | ၇၄ | ၁၂ | ကျပ် ၃,၈၀၀,၀၀၀ |
| (ဃ) | B.Sc(Hons) Computing | ၅၈ | ၂၄ | US$ ၂၅၀၀ နှင့်ညီမျှသော မြန်မာငွေနှင့် Partner University သို့ ပေးသွင်းရသော ကျောင်းလခ |
| (င) | M.Sc (Advanced Security & Digital Forensics) | ၂၀ | ၂၄ | US$ ၃၀၀၀ နှင့်ညီမျှသော မြန်မာငွေနှင့် Partner University သို့ ပေးသွင်းရသော ကျောင်းလခ |

| | | | | |
|---|---|---|---|---|
| ၈။ | ဝန်ထမ်းခန့်ထားမှု | **သင်ကြားရေး** | | |
| | | | **ပြည်တွင်း** | **ပြည်ပ** |
| | | **ဦးရေ** | ၃၆ ဦး | မရှိပါ။ |
| | | **အမြင့်ဆုံးလစာ(ကျပ်)** | ၇၀၀,၀၀၀ | |
| | | **အနိမ့်ဆုံးလစာ(ကျပ်)** | ၂၅၀,၀၀၀ | |
| | | **စီမံခန့်ခွဲရေး** | | |
| | | | **ပြည်တွင်း** | **ပြည်ပ** |
| | | **ဦးရေ** | ၅၂ ဦး | မရှိပါ။ |
| | | **အမြင့်ဆုံးလစာ(ကျပ်)** | ၇၀၀,၀၀၀ | |
| | | **အနိမ့်ဆုံးလစာ(ကျပ်)** | ၁၅၀,၀၀၀ | |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - IMCS (Institute of Management & Computer Studies) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ ကျန်းမာသန့်ရှင်းရေး၊ ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးစီမံချက်၊ အမျိုးသားပညာရေး ဥပဒေ လိုက်နာမည့် ဝန်ခံချက်၊ ဆရာ/ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများ၊ ဆရာ/ဆရာမများနှင့် စီမံခန့်ခွဲရေး ဝန်ထမ်းလုံလောက်မှု ရှိကြောင်း ဝန်ခံကတိ တို့အား တင်ပြထားပါသည်။<br>- မြေပိုင်ဆိုင်မှုအထောက်အထားများအား တင်ပြထားပါသည်။<br>- ပေးအပ်ချီးမြှင့်မည့် သင်တန်းဆင်းလက်မှတ်၊ အောင်လက်မှတ်နှင့် ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံများ၊ သင်ရိုးညွှန်းတမ်းနှင့် သင်ကြားပေးမည့် အစီအစဉ်များအား တင်ပြထားပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် ဒေါ်နုနုသန့် အမည်ဖြင့် ၉-၅-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၃၀၀,၃၅၈,၈၂၂.၂၅ ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။<br>- Edinburgh Napier University (UK) နှင့် ချုပ်ဆိုထားသည့် Collaboration Agreement တို့အား တင်ပြထားပါသည်။<br>- Pearson Education Ltd. (UK) မှ ခွင့်ပြုပေးထားသည့် BTEC Approved Centre Certificate တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ် |

| | | |
|---|---|---|
| | | များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် ၂၀၀၇ ခုနှစ်မှစ၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက် လျက်ရှိကြောင်း တွေ့ရှိရပါသည်။<br>- ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။ |

**ကန့်သတ်**

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/အ-၀၃၉/ ၂၀၁၉(၃၃၁ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ အမှတ်-၅၀၇/၇၊ ပြည်ရိပ်သာလမ်း၊ ပြည်လမ်း၊ (၈) ရပ်ကွက် ၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ မြေဧရိယာ ၀.၃၀၆ ဧကနှင့် မြေကွက်အမှတ်-၁၂၀စီ/၃၉၊ ၁၂၀စီ/၄၀၊ မြေတိုင်းရပ်ကွက်အမှတ်-၃၆အီး၊ အောင်မင်းခေါင်လမ်း၊ (၁၀) ရပ်ကွက်၊ ဝင်ဒါမီယာ၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၀၅၈ ဧက တို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ IMCS (Institute of Management & Computer Studies) Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ မြေပိုင်ဆိုင်မှုအထောက်အထားများ၊ အမျိုးသားပညာရေး ဥပဒေ လိုက်နာမည့် ဝန်ခံချက်၊ သင်ရိုးညွှန်းတမ်းနှင့် ဆရာ၊ ဆရာမများ၏ ပညာအရည်အချင်း အထောက်အထားများအား ပူးတွဲ တင်ပြထားပါသည်။

၃။ အတည်ပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁,၅၀၀.၀၀ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်း တိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း**<br>**ကျပ်(သန်း)** |
|---|---|
| ငွေသား | ၉၀၀.၀၀၀ |
| စက်ပစ္စည်း | ၃၅၀.၀၀၀ |
| အဆောက်အအုံ | ၂၀၀.၀၀၀ |
| ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်း | ၅၀.၀၀၀ |
| **စုစုပေါင်း** | **၁,၅၀၀.၀၀၀** |

၄။ အတည်ပြုလုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၃၆ ဦးနှင့် ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံး

**ကန့်သတ်**

လစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၅၂ ဦး ခန့်ထားမည် ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၇၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အတည်ပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးနေသည့် သင်တန်းအမျိုးအမည်နှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ကျောင်းသား ဦးရေ | ကာလ (လ) | ဝန်ဆောင် ခနှုန်း |
|---|---|---|---|---|
| (က) | Pre-HND | ၁၇၀ | ၄ | ကျပ် ၁,၅၀၀,၀၀၀ |
| (ခ) | Higher National Certificate | ၁၂၀ | ၁၂ | ကျပ် ၃,၈၀၀,၀၀၀ |
| (ဂ) | Higher National Diploma | ၇၄ | ၁၂ | ကျပ် ၃,၈၀၀,၀၀၀ |
| (ဃ) | B.Sc (Hons) Computing | ၅၈ | ၂၄ | US$ ၂၅၀၀ နှင့်ညီမျှသော မြန်မာငွေနှင့် Partner University သို့ ပေးသွင်း ရသော ကျောင်းလခ |
| (င) | M.Sc (Advanced Security Digital Forensics) | ၂၀ | ၂၄ | US$ ၃၀၀၀ နှင့်ညီမျှသော မြန်မာငွေနှင့် Partner University သို့ ပေးသွင်း ရသော ကျောင်းလခ |

၆။ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံခဲ့ရာ ပညာရေးဝန်ကြီးဌာနမှ အတည်ပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကိုထောက်ခံပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ)**

၇။ ငွေကြေးအထောက်အထားအဖြစ် ရောဝတီဘဏ်တွင် ဒေါ်နုနုသန့် အမည်ဖြင့် ၉-၅-၂၀၁၉ ရက်စွဲဖြင့် ကျပ် ၃၀၀,၃၅၈,၈၂၂.၂၅ ရှိ ကြောင်း တင်ပြထားပါသည်။

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) Edinburgh Napier University (UK) နှင့် ချုပ်ဆိုထားသည့် Collaboration Agreement တို့အား တင်ပြထားပါသည်။

(ဃ) Pearson Education Ltd. (UK) မှ ခွင့်ပြုပေးထားသည့် BTEC Approved Centre Certificate တင်ပြထားပါသည်။

(င) ကုမ္ပဏီသည် ၂၀၀၇ ခုနှစ်မှစ၍ ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအား ဆောင်ရွက်လျက်ရှိကြောင်း တွေ့ရှိရပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပညာရေးဝန်ကြီးဌာန

## ဝန်ကြီးရုံး

| ဝင်စာအမှတ် | M၄-၁၈၄၀ |
|---|---|
| ရက်စွဲ | ၂၀.၆.၁၉ |

စာအမှတ်၊ မူဝါဒ(သဘောထားမှတ်ချက်)၁၂၉၉/၂၀၁၉(၁၈၈၆)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၅-၆-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ခ-၀၃၉/၂၀၁၉(၃၀၄)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

(၃) ပညာရေးဝန်ကြီးဌာန၏ ၂၉-၁၀-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (သဘောထား)/၂၀၁၈(၁၇၀၅၇)

၂၀၈၅၅
၁၉.၆.၁၉

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ အမှတ်-၅၀၇/၇၊ ပြည်ရိပ်သာလမ်း၊ ပြည်လမ်း၊ (၈)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၃၀၆ ဧကနှင့် မြေကွက်အမှတ်- ၁၂၀ စီ/၃၉၊ ၁၂၀ စီ/၄၀၊ မြေတိုင်းရပ်ကွက်အမှတ်-၃၆ အီး၊ အောင်မင်းခေါင်လမ်း၊ ဝင်ဒါမီယာ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ ၀.၀၅၈ ဧက တို့တွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍သဘောထား မှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာ ရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ဖော်ပြပါ သတ်မှတ်ချက်များကို မဖြစ်မနေ စိစစ်ရန်နှင့် IMCS (Institute of Management & Computer Studies) Co., Ltd. ၏ ပညာရေးဝန်ဆောင်မှုလုပ်ငန်းသည် နိုင်ငံတကာအသိအမှတ်ပြု ခိုင်မာမှု ရှိ-မရှိ စိစစ်ရန်လည်း လိုအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(၁) နိုင်ငံသား၊

(၂) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(၃) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့်အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိကကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက်အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက်အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(ဍ) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(၁) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများသည် ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(၂) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(၃) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဎ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာ၊ ဆေးလိပ်နှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

(ဒ) လုံခြုံဘေးကင်းပြီး ကလေးပျော် စံပြစာသင်ကျောင်း ဆောက်လုပ်ရေး လမ်းညွှန်ချက်နှင့်အညီ ဆောင်ရွက်ရန် ကတိပြုဝန်ခံချက် (Safe and Child-friendly School Construction Guidelines)

၃။ ပညာရေးဝန်ကြီးဌာနသို့ ဆက်သွယ်ဆောင်ရွက်လိုပါက အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၃၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် IMCS (Institute of Management & Computer Studies) Co., Ltd. မှ အမှတ်-၅၀၇/၇၊ ပြည်ရိပ်သာလမ်း၊ ပြည်လမ်း၊ (၈)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေရိယာ ၀.၃၀၆ ကေနှင့် မြေကွက်အမှတ်- ၁၂၀ စီ/၃၉၊ ၁၂၀ စီ/၄၀၊ မြေတိုင်းရပ်ကွက်အမှတ်-၃၆ အီး၊ အောင်မင်းခေါင်လမ်း၊ ဝင်ဒါမီယာ (၁၀) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေရိယာ ၀.၀၅၈ ကေ တို့တွင် ပညာရေး ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေး ကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်း၊ ပညာရေးဝန်ဆောင်မှုဆိုင်ရာလုပ်ငန်း များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံး လုပ်နည်းများနှင့်ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ထောက်ခံပါကြောင်းနှင့် ပညာရေး လုပ်ငန်းခွင့်ပြုချက်ရရှိရန် အချိန်ယူစိစစ်ဆောင်ရွက် ရသည့်အတွက် ၂၀၁၉ ခုနှစ်၊ ဇွန်လ(၂၁)ရက် ပြန်ကြားရန် ခက်ခဲပါကြောင်း (အမျိုးသားပညာရေး ဥပဒေ ပုဒ်မ - ၂ (ခ) အရ အမျိုးသား ပညာရေးမူဝါဒကော်မရှင်၊ အမျိုးသားပညာရေးအဆင့်အတန်းနှင့် အရည်အသွေးအာမခံမှု အကဲဖြတ်ရေးကော်မတီနှင့် ပါမောက္ခချုပ်များကော်မတီတို့၏ သဘောထားရယူရန်လိုကြောင်း) ပြန်ကြားအပ်ပါသည်။

Kyaw Naing
10-6-19

ဒုတိယဝန်ကြီး (ကိုယ်စား)

( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ

မျှောစာတွဲ